# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၇၇/၂၀၁၉ — ၂၀၁၉ ခုနှစ် ဩဂုတ်လ 8 ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ-၂၅ (ဂ) အရ ဤခွင့်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူအမည် MR. ZHU, JIANYONG

(၂) နိုင်ငံသား CHINESE

(၃) နေရပ်လိပ်စာ PUZHONG ROAD C11, TONGREN GARDEN LU CHENG DISTRICT, WENZHOU, ZHEJIANG, THE PEOPLE'S REPUBLIC OF CHINA

(၄) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ GOLD EMPEROR GROUP CO., LTD., NO.1288, 2ND BINHAI ROAD, ECONOMIC AND TECHNOLOGICAL DEVELOPMENT ZONE, WENZHOU, THE PEOPLE'S REPUBLIC OF CHINA

(၅) ဖွဲ့စည်းရာအရပ် THE PEOPLE'S REPUBLIC OF CHINA

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်-၃၀၆၊ ၃၀၇၊ ၃၀၈၊ ၃၀၉၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်း ပမာဏ အမေရိကန်ဒေါ်လာ ၁၃.၃၆၀ သန်း

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ခွင့်ပြုမိန့်ရရှိသည့်နေ့မှ (၂) နှစ် အတွင်း

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၁၃.၃၆၀ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ

(၁၁) တည်ဆောက်မှုကာလ ၂ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၅၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် GOLD EMPEROR (MYANMAR) COMPANY LIMITED

Thaung Tun

(သောင်းထွန်း)
ဥက္ကဋ္ဌ

MS

Form (3)

P000118

# THE REPUBLIC OF THE UNION OF MYANMAR

## Myanmar Investment Commission

## PERMIT

Permit No. 177/2019 Dated 8 August 2019

This permit is issued by the Myanmar Investment Commission in accordance with Section 25 (c) of the Myanmar Investment Law.

(1) Investor Name MR. ZHU, JIANYONG

(2) Citizenship CHINESE

(3) Residential Address PUZHONG ROAD C11, TONGREN GARDEN LU CHENG DISTRICT, WENZHOU, ZHEJIANG, THE PEOPLE'S REPUBLIC OF CHINA

(4) Name and Address of Principal Organization GOLD EMPEROR GROUP CO., LTD., NO.1288, 2ND BINHAI ROAD, ECONOMIC AND TECHNOLOGICAL DEVELOPMENT ZONE, WENZHOU, THE PEOPLE'S REPUBLIC OF CHINA

(5) Place of Incorporation THE PEOPLE'S REPUBLIC OF CHINA

(6) Type of Business MANUFACTURING OF VARIOUS KINDS OF SHOES ON CMP BASIS

(7) Place(s) of Investment Project PLOT NO. 306,307,308,309, MYAY TAING BLOCK NO.25, SHWE LIN BAN SETHMU MYO, HLAING THAR YAR TOWNSHIP, YANGON REGION

(8) Foreign Capital Amount US$ 13.360 MILLION

(9) Period for Foreign Capital to be brought in WITHIN TWO YEARS FROM THE DATE OF ISSUANCE OF MIC PERMIT

(10) Total Amount of Capital (Kyat) EQUIVALENT IN KYAT OF US$ 13.360 MILLION

(11) Construction/Preparation Period 2 YEARS

(12) Validity of Permit 50 YEARS

(13) Form of Investment WHOLLY FOREIGN OWNED

(14) Name of Company Incorporated in Myanmar GOLD EMPEROR (MYANMAR) COMPANY LIMITED

Myanmar Investment Commission

Thaung Tun

(Thaung Tun)

Chairperson

my

THE REPUBLIC OF THE UNION OF MYANMAR
**MYANMAR INVESTMENT COMMISSION**
No.(1), Thitsar Road, Yankin Township, Yangon

Our ref: MIC-3/P-066/2019( 140 )
Dated : 8 August 2019

**Subject:** **Decision of the Myanmar Investment Commission regarding a Permit for manufacturing of various kinds of shoes on CMP basis under the name of Gold Emperor (Myanmar) Company Limited**

Reference: Gold Emperor (Myanmar) Company Limited's Letter dated 18/06/2019

1. The Myanmar Investment Commission, at its 12/2019 meeting held on 31/07/2019, approved the Permit for investment for manufacturing of various kinds of shoes on CMP Basis under the name of Gold Emperor (Myanmar) Company Limited submitted by Gold Emperor Group Co., Ltd. (100 %) from the People's Republic of China as a wholly foreign owned investment in accordance with the Myanmar Investment Law and Rules.

2. The terms and conditions of the Permit are as follows:

(a) The term of the permitted project shall be fifty (50) years commencing from the date of the issuance of the Permit by the Myanmar Investment Commission.

(b) The term of the Land Lease Agreement shall be fifty (50) years commencing from the date of the agreement between U Aye Thaung , U Pyae Phyo Kyaw and U Shin Win (a) May Fu Gam (a) U Myint Swe (Lessor) and Gold Emperor (Myanmar) Company Limited (Lessee).

(c) The annual rent for land shall be Kyat 48,000,000 (Kyat forty-eight million only) for the total area of the land measuring 7.88 acres.

(d) Gold Emperor (Myanmar) Company Limited may submit an application form for the right to use land under Chapter XII and

exemptions and reliefs under Sections 75, 77 and 78 of Chapter XVIII of the Myanmar Investment Law.

(e) Gold Emperor (Myanmar) Company Limited shall use its best efforts to achieve a timely realization of the work stated in the Permit application.

(f) Gold Emperor (Myanmar) Company Limited shall obey and respect the responsibilities of investors under Section 65 of the Myanmar Investment Law and Chapter XX of the Myanmar Investment Rules.

(g) Gold Emperor (Myanmar) Company Limited shall carry out of prevention, mitigation and monitoring of significant environmental impacts according to the type of investment activities in accordance with the relevant laws, rules, regulations and procedures.

(h) Gold Emperor (Myanmar) Company Limited shall abide by the Fire Services Department's rules, regulations, directives and instructions. Moreover, Top Form Myanmar Company Limited shall undertake fire prevention measures such as the appropriate placement of water storage tank, fire hooks, sand bags, and fire extinguishers, and training will be provided to all employees regarding the use of fire fighting equipment. Gold Emperor (Myanmar) Company Limited shall also appoint a specific individual who shall be called the Fire Safety Officer (FSO) who shall be designated responsible for on-site safety and coordination within the organization.

(i) Gold Emperor (Myanmar) Company Limited shall submit to the Myanmar Investment Commission any sublease, mortgage, transfer of shares or transfer of the business to any person during the investment period in accordance with Section 72 of the Myanmar Investment Law and Rule 191 of the Myanmar Investment Rules.





MS

(j) Gold Emperor (Myanmar) Company Limited shall submit an annual report in the prescribed form to the Myanmar Investment Commission within three (3) months of the end of the financial year in accordance with Rule 196 of the Myanmar Investment Rules and shall disclose a summary of the report on its website or the Myanmar Investment Commission's website.

(k) Gold Emperor (Myanmar) Company Limited must, during the operation period under the permit of the Myanmar Investment Commission, submit its operating report quarterly in the prescribed form in accordance with Rule 197 of the Myanmar Investment Rules.

3. Gold Emperor (Myanmar) Company Limited shall carry out in accordance with the laws, rules, regulations and stipulations of the relevant Union Ministries, governmental department and governmental organizations the obtaining of any licence, permit or registration as per Section 65 (d) of the Myanmar Investment Law.

4. Gold Emperor (Myanmar) Company Limited shall submit five (5) copies of all approvals, licences, permits and similar authorizations relevant to the initial implementation of the investment and Land Lease Agreement to the Myanmar Investment Commission.

(Thaung Tun)
Chairperson

**Gold Emperor (Myanmar) Company Limited**

cc: 1. The Office of the Union Government
2. Ministry of Home Affairs
3. Ministry of Office of the Union Government
4. Ministry of Natural Resources and Environmental Conservation
5. Ministry of Labour, Immigration and Population

6. Ministry of Industry
7. Ministry of Commerce
8. Ministry of Planning and Finance
9. Ministry of Investment and Foreign Economic Relations
10. Central Bank of Myanmar
11. Chairman, CMP Enterprises Supervision Committee
12. Yangon Region Investment Committee
13. Office of the Yangon Region Government
14. Director General, Department of Environmental Conservation
15. Director General, Directorate of Labour
16. Director General, Department of Immigration
17. Director General, Directorate of Industrial Supervision and Inspection
18. Director General, Department of Trade
19. Director General, National Archives Department
20. Director General, Customs Department
21. Director General, Internal Revenue Department
22. Director General, Directorate of Investment and Company Administration
23. Yangon Region Office, Directorate of Investment and Company Administration

Gold Emperor (Myanmar) Co., Ltd. နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှု Diary

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှ အဆိုပြုချက်တင်ပြခြင်း | ၁၈-၆-၂၀၁၉ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂၂/၂၀၁၉)သို့ တင်ပြခြင်း | ၂၄-၆-၂၀၁၉ | | |
| ၃ | အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၂၆-၆-၂၀၁၉ | | |
| ၄ | လုပ်ငန်းလိုအပ်ချက်အရသယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၂၇-၆-၂၀၁၉ | ၁၁-၇-၂၀၁၉ | |
| ၅ | စက်မှုဝန်ကြီးဌာနသို့သဘောထားတောင်းခံခြင်း | ၂၇-၆-၂၀၁၉ | ၁၂-၇-၂၀၁၉ | |
| ၆ | စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန | ၂၇-၆-၂၀၁၉ | ၉-၇-၂၀၁၉ | |
| ၇ | ကုမ္ပဏီသို့အဆိုပြုလွှာလက်ခံကြောင်း ပြန်ကြားခြင်း | ၂၂-၇-၂၀၁၉ | | |
| ၈ | ကုမ္ပဏီမှအဆိုပြုချက်ပြန်လည်တင်ပြခြင်းနှင့် ပြင်ဆင်ချက်များ ပေးပို့ခြင်း | ၂၃-၇-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | ရက်ပေါင်း ၄၀ | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် – Gold Emperor (Myanmar) Co., Ltd.

လုပ်ငန်းအမျိုးအစား – CMP စနစ်ဖြင့်ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း

PATအကြိမ်/နေ့စွဲ – ၂၂/၂၀၁၉ (၂၄-၆-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး<br>မပြီး | မှတ်ချက် |
|---|---|---|---|
| ၁ | တင်သွင်းမည့်စက်ပစ္စည်းများကို ပစ္စည်းအုပ်စုတူများ စုစည်းခွဲခြင်းတင်ပြရန်နှင့် ပြည်တွင်း/ပြည်ပဝယ်ယူမည့် ပစ္စည်းများ ပြန်လည်စိစစ်ပြင်ဆင်တင်ပြရန်။ | ပြီး | |
| ၂ | Investment Plan ပြင်ဆင်တင်ပြရန်။ | ပြီး | |
| ၃ | အဆောက်အဦများကို Phase အလိုက်တည် ဆောက်မည့် Plan တင်ပြရန်။ | ပြီး | |
| ၄ | ချုပ်လုပ်မည့်ဖိနပ်၏ Brand Name နှင့်အသုံးပြုခွင့်အထောက်အထားဖော်ပြရန်။ | ပြီး | |
| ၅ | စက်ပစ္စည်း၊ ကုန်ကြမ်းပစ္စည်း၊ ထုတ်လုပ်မှုဇယားနှင့် အလုပ်သမားဇယားများကို နောက်ဆက်တွဲဖြင့် ဖော်ပြပေးရန်နှင့် အလုပ်သမားခန့်ထားမှုများ ပြန်လည်စိစစ် တင်ပြရန်။ | ပြီး | |

**အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold Emperor (Myanmar) Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Gold Emperor (Myanmar) Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Zhu, Jianyong |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Gold Emperor (Myanmar) Co., Ltd. (တရုတ်) ၁၀၀ % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့်ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၃၀၆+၃၀၇+၃၀၈+၃၀၉၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးအေးသောင်း၊ ဦးပြည့်ဖြိုးကျော်၊ ဦးရှင်ဝင်း(ခ) မေဖုဂမ်း(ခ) ဦးမြင့်ဆွေ |
| | မြေ/အဆောက်အဦအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၇.၈၈ ဧက (၃၁,၈၈၉.၂၅၆ စတုရန်းမီတာ)<br>- ၆ထပ်စက်ရုံအဆောက်အဦတစ်လုံးအမြင့်၇၇.၄၂၄ပေ<br>- ၃ထပ်အဆောက်အဦတစ်လုံး ၂၉၈.၅၅ ပေx၆၅.၆၂ပေ (ဂိုဒေါင်)<br>- ၄ထပ်အဆောက်အဦတစ်လုံး၂၈၂.၁၅ပေx၅၉.၀၅ပေ(ဝန်ထမ်းဆောင်)<br>- ၄ထပ်အဆောက်အဦတစ်လုံး ၂၃၉.၅၀ ပေx၅၉.၀၅ပေ (ရုံးခန်း) |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၄၈,၀၀၀,၀၀၀<br>- တစ်နှစ်တစ်စတုရန်းမီတာလျှင် ကျပ် ၁၅၀၅.၂ နှုန်း |
| | မြေငှားရမ်းအသုံးပြုခွင့်သက်တမ်း | - ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | အမေရိကန်ဒေါ်လာ ၁၃.၃၆၀ သန်း |

| | | |
|---|---|---|
| | ထည့်ဝင်သည့်အမျိုးအစား | - US$(သန်း) |
| | ငွေသား | ၁.၀၀၀ |
| | စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၁.၁၁၃ |
| | စက်ပစ္စည်း(Recondition)(ပြည်ပ) | ၀.၂၇၇ |
| | လျှပ်စစ်ဆက်စပ်ပစ္စည်း(ပြည်ပ) | ၀.၆၉၀ |
| | အဆောက်အဦနှင့်လုပ်ငန်းသုံး ပစ္စည်း(ပြည်ပ) | ၀.၇၄၉ |
| | အဆောက်အဦကုန်ကျစရိတ် | ၇.၇၆၀ |
| | မြေငှားရမ်းခ | ၁.၆၀၀ |
| | ရုံးအသုံးအဆောင်ပစ္စည်း(ပြည်တွင်း) | ၀.၁၃၁ |
| | မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၄၀ |
| | **စုစုပေါင်း** | **၁၃.၃၆၀** |
| ၇။ | ရောင်းချမည့်နည်းစနစ် | **- ၁၀၀% ပြည်ပပို့** |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (ပထမနှစ်) | |

| | အရေအတွက်(Pair) | CMP လက်ခ(US$/Pair) |
|---|---|---|
| Female Middle Boots | ၂,၀၅၀,၀၀၀ | ၃.၆၇ |
| Female Slippers | ၁,၀၄၀,၀၀၀ | ၃.၀၉ |
| Women's Shoes | ၂,၂၈၀,၀၀၀ | ၄.၀၈ |
| Women's Sandals | ၂,၇၃၀,၀၀၀ | ၂.၅၅ |
| Children's Boots | ၇၅၀,၀၀၀ | ၃.၂၄ |
| Children's Shoes | ၇၀,၀၀၀ | ၂.၄၈ |
| Females Boots | ၈၀၀,၀၀၀ | ၅.၂၃ |
| Female Booties | ၁,၂၃၀,၀၀၀ | ၃.၇၄ |
| Children's Sandals | ၃၀၀,၀၀၀ | ၃.၀၅ |

၉။ အခြားတင်ပြချက်

| | ပြည်တွင်း(kyat) | ပြည်ပ(US$) |
|---|---|---|
| **ဝန်ထမ်းဦးရေ** | ၁၂၄၁ | ၅၀ |
| **အမြင့်ဆုံးလစာ** | ၇၀၀,၀၀၀ | ၈၀၀ |
| **အနိမ့်ဆုံးလစာ** | ၁၆၇,၀၀၀ | ၆၀၀ |

- Gold Emperor (Myanmar) Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်- 119928001 နှင့် ငွေကြေးအထောက်အထားအဖြစ် Gold Emperor Group Co., Ltd. သည် ၂၈-၃-၂၀၁၉

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | ရက်စွဲဖြင့် တရုတ်ယွမ် ၂၁၇၄၉၇၃၂၃.၇၂(US$၃၁,၅၀၂,၂၅၈.၂၄၀) ရှိကြောင်းအထောက်အထားကိုလည်းတင်ပြထားပါသည်။<br>- 1 US$=1526 kyat<br>- ထုတ်လုပ်မည့် ကုန်ပစ္စည်းနမူနာများနှင့် ကုန်ချောနမူနာများ ကိုလည်း တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ Corporate Social Responsibility (CSR) အတွက် ဆောင်ရွက် မည့်အစီအစဉ်နှင့် မီးဘေးကာကွယ်ရေး စီမံချက်များ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍ တွင် ပါဝင်ပြီး ISIC Code. 1520 တွင် အကျုံးဝင်ပါသည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment–EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan–EMP) ရေးဆွဲတင်ပြရန်သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။<br>- စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ လုပ်ထုံးလုပ်နည်းနှင့်အညီ ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။<br>- စက်မှုဝန်ကြီးဌာနမှ တင်သွင်းမည့်စက်ပစ္စည်းများနှင့် အသုံးပြုမည့်ကုန်ကြမ်းများသည် ယေဘူယျအားဖြင့် လုပ်ငန်းသဘာဝ၊ ထုတ်လုပ်မှု လုပ်ငန်းစဉ်များနှင့် ကိုက်ညီမှုရှိပြီး လုပ်ငန်းနှင့် သင့်လျော်မှု ရှိကြောင်းသဘောထား ပြန်ကြားထားပါသည်။<br>- စက်ပစ္စည်းနှင့်ကုန်ကြမ်းများကို တရုတ်နိုင်ငံမှတင်သွင်းမည် ဖြစ်ပြီး၊ Puma, H & M, Deichmann Brand များကို ထုတ်လုပ်ပြီး Europe နှင့် USA နိုင်ငံများသို့ တင်ပို့မည်ဖြစ်ပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/ခ-၀၆၆/၂၀၁၉( ၁၀၇ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇူလိုင်လ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold Emperor (Myanmar) Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Gold Emperor Group Co., Ltd. မှ ၁၀၀ % ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold Emperor (Myanmar) Co., Ltd. မှ မြေကွက်အမှတ်-၃၀၆+၃၀၇+၃၀၈+၃၀၉၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၇.၈၈ ဧက (၃၁,၈၈၉.၂၅၆ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးအေးသောင်း၊ ဦးပြည့်ဖြိုးကျော်၊ ဦးရှင်ဝင်း(ခ) မေဖုဂမ်း(ခ) ဦးမြင့်ဆွေနှင့် ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ မြေဆိုင်ရာ အထောက်အထားများနှင့် ထုတ်လုပ်မှုပစ္စည်းနမူနာ ဓာတ်ပုံများအား ပူးတွဲတင်ပြထားပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး ဖြစ်ပြီး လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပါသည်။ နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၄၈,၀၀၀,၀၀၀ ဖြစ်ပြီး ၁ နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁၅၀၅.၀၂ ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၃.၃၆၀ သန်း ဖြစ်ပြီး ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | US$(သန်း) |
|---|---|
| ငွေသား | ၁.၀၀၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၁.၁၁၃ |
| စက်နှင့်စက်ပစ္စည်း Recondition (ပြည်ပ) | ၀.၂၇၇ |
| လျှပ်စစ်ဆက်စပ်ပစ္စည်း(ပြည်ပ) | ၀.၆၉၀ |
| အဆောက်အဦနှင့်လုပ်ငန်းသုံးပစ္စည်း(ပြည်ပ) | ၀.၇၄၉ |

ကန့်သတ်

| | |
|---|---|
| အဆောက်အဦကုန်ကျစရိတ် | ၇.၇၆၀ |
| မြေငှားရမ်းခ | ၁.၆၀၀ |
| ရုံးအသုံးအဆောင်ပစ္စည်း(ပြည်တွင်း) | ၀.၁၃၁ |
| မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၄၀ |
| **စုစုပေါင်း** | **၁၃.၃၆၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက်ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၁၂၄၁ ဦးနှင့် ပြည်ပဝန်ထမ်း ၅၀ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၇,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၆၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၈၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းမှထွက်ရှိသောဖိနပ်များကိုပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပြီးပုံမှန်နှစ် (ပထမနှစ်) ၏ ထုတ်လုပ်မှုအရေအတွက်နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (Pair) | CMP လက်ခနှုန်း (US$/ Pair) |
|---|---|---|---|
| (က) | Female Middle Boots | ၂,၀၅၀,၀၀၀ | ၃.၆၇ |
| (ခ) | Female Slippers | ၁,၀၄၀,၀၀၀ | ၃.၀၉ |
| (ဂ) | Women's Shoes | ၂,၂၈၀,၀၀၀ | ၄.၀၈ |
| (ဃ) | Women's Sandals | ၂,၇၃၀,၀၀၀ | ၂.၅၅ |
| (င) | Children's Boots | ၇၅၀,၀၀၀ | ၃.၂၄ |
| (စ) | Children's Shoes | ၇၀,၀၀၀ | ၂.၄၈ |
| (ဆ) | Female Boots | ၈၀၀,၀၀၀ | ၅.၂၃ |
| (ဇ) | Female Booties | ၁,၂၃၀,၀၀၀ | ၃.၇၄ |
| (ဈ) | Children's Sandals | ၃၀၀,၀၀၀ | ၃.၀၅ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact

Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီအစီရင်ခံစာ ရေးသားတင်ပြရန် သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။** **နောက်ဆက်တွဲ(က)**

(ခ) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန** မှ သတ်မှတ် ထုတ်ပြန်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** တင်သွင်းမည့်စက်ပစ္စည်းများနှင့် အသုံးပြုမည့်ကုန်ကြမ်းများသည်ယေဘူယျအားဖြင့် လုပ်ငန်းသဘာဝ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်များနှင့် ကိုက်ညီမှုရှိပြီးလုပ်ငန်းနှင့်သင့်လျော်မှု ရှိကြောင်းသဘောထား ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(ဂ)**

၇။ ငွေကြေးအထောက်အထား အဖြစ် Gold Emperor Group Co., Ltd. သည် ၂၈-၃-၂၀၁၉ ရက်စွဲဖြင့် တရုတ်ယွမ် ၂၁၇,၄၉၇,၃၂၃.၇၂(US$၃၁,၅၀၂,၂၅၈.၂၄၀) ရှိကြောင်း အထောက်အထားကိုလည်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်းတင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်၊ လေသန့်စင်စနစ်၊ Corporate Social Responsibility (CSR) အတွက် ဆောင်ရွက်မည့်အစီအစဉ်နှင့် မီးဘေးကာကွယ်ရေးစီမံချက်များ တင်ပြထားပါသည်။

(ဂ) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဇွန်လ ၂၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၂၂/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ပါသည်။

## ဆုံးဖြတ်ရန်အချက်

၉။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold Emperor (Myanmar) Co., Ltd. မှ CMP စနစ်ဖြင့်ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

**နောက်ဆက်တွဲ (က)**



ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၁၀၁/ MIC (OSS)/ ၀၁(၅/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Gold Emperor Group Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၆-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၃ / အ-၀၆၆/၂၀၁၉ (၀၅၂)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Gold Emperor Group Co., Ltd. မှ ၁၀၀% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold Emperor (Myanmar) Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့ရှိ မြေကွက်အမှတ်- ၃၀၆၊ ၃၀၇၊ ၃၀၈၊ ၃၀၉၊ မြေတိုင်းရပ်ကွက်အမှတ်- ၂၅ ရှိ စုစုပေါင်း မြေဧရိယာ ၇.၈၈ ဧက ( ၃၁,၈၈၉.၂၆ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ(၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ ( ၃၁,၈၈၉.၂၆ စတုရန်းမီတာ) တွင် (၃၉၄.၄၈x၇၁.၅၂) ပေရှိ (၆) ထပ်အဆောက်အဦ (၁) လုံး၊ (၂၉၈.၅၅x၆၅.၆၂) ပေရှိ (၃) ထပ် ဂိုဒေါင်အဆောက်အဦ (၁) လုံး၊ (၂၈၂.၁၅x၅၉.၀၅) ပေရှိ (၄) ထပ် ဝန်ထမ်းအဆောင် အဆောက်အဦ (၁) လုံး၊ (၂၃၉.၅၀x၅၉.၀၅) ပေရှိ (၄) ထပ် ရုံးခန်းအဆောက်အဦ (၁) လုံး၊ စုစုပေါင်း အဆောက်အဦ (၄) လုံး တည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင်အမျိုးသမီးဝတ်နှင့်ကလေးဝတ်ဖိနပ်အမျိုးအစား (၉) မျိုးအား စုစုပေါင်း (၁၁,၂၅၀,၀၀၀) ရံမှ (၁၀) နှစ်အတွင်း (၁၂,၃၇၅,၀၀၂) ရံအထိ တိုးမြှင့်ထုတ်လုပ်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Gold Emperor Group Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် အဆောက်အဦများ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(င) အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများဖြစ်သည့် Rubber Sole၊ Natural and Synthetic Leather (သားရေတုများ)၊ Foam၊ ကော် (Glue) အစရှိသည်တို့တွင် ပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သည့် ပစ္စည်းများပါဝင်ပြီး အဆိုပါ ကုန်ကြမ်းပစ္စည်းများသည် Petroleum based synthetic material များဖြစ်ပါက ပတ်ဝန်းကျင်ထိခိုက်နိုင်သည့် Toxic Substance များထွက်ရှိနိုင်ခြင်း၊ ဖိနပ်အလွှာတွဲစပ်ရာ၌ အသုံးပြုမည့် ကော်တွင်ပါဝင်သည့် (Ethylene Vinyl Acetate) အားနေ့စဉ် ရှူရှိုက်မိလျှင် မျက်စိကျိန်းစပ်ခြင်း၊ အသက်ရှူမွန်းကြပ်ခြင်းနှင့် အသေးစား အဆိပ်သင့်ခြင်းများ ဖြစ်ပေါ်စေနိုင်ခြင်း လုပ်ငန်းသုံးစက်ပစ္စည်းများကြောင့် အသံဆူညံမှု ဖြစ်ခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Gold Emperor Group Co., Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း **(EnvironmentalIm-pact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်

ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ (ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

NPT-8983
10-7-19

စာအမှတ် ၊ စက - ၁၄/ ၄ - ၁၂ / ၂၀၁၉ ( ၃၁ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ ဇူလိုင်လ ၉ ရက်

သို့

M-691
12/7/19

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၆-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၃/ အ - ၀၆၆/ ၂၀၁၉ (၀၅၁)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Gold Emperor Group Co.,Ltd မှ ၁၀၀% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold Emperor (Myanmar) Co.,Ltd မှ မြေကွက်အမှတ် – ၃၀၆ +၃၀၇+၃၀၈+၃၀၉၊ မြေတိုင်းရပ်ကွက်အမှတ်–၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၇.၈၈ ဧက(၃၁,၈၈၉.၂၅၆ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့်ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြထားသည့် စက်ပစ္စည်း (Brand New)၊ (Recondition)နှင့် ကုန်ကြမ်းတင်သွင်းခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါ Gold Emperor Group Co.,Ltd မှ ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြမှုနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် CMP စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ဆက်စပ်ဌာနများ၏ သတ်မှတ်လုပ်ထုံးလုပ်နည်းများကို လိုက်နာဆောင်ရွက်ရန်လိုအပ်ပြီး ဖိနပ်များထုတ်လုပ်ရာတွင် လိုအပ်သောစက်ပစ္စည်း (Brand New, Recondition) များကိုပြည်ပမှတင်သွင်းခြင်း၊ CMP စနစ်ဖြင့် ဖိနပ်များထုတ်လုပ်ပြီး ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းအတွက် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် သတ်မှတ်ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပူးပေါင်းဆောင်ရွက်ပေးသွားမည် ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
( အောင်စိုး ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

နောက်ဆက်တွဲ (ဂ)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

NPT-3051 15.7.19

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၈-၂၀၁၉( ၃၄၄၂ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-705 18/7/19

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၆.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၃ / အ - ၀၆၆ / ၂၀၁၉ ( ၀၅၀ )

၁။ Gold Emperor Group Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅ ၊ မြေကွက်အမှတ်- ( ၃၀၆ + ၃၀၇ + ၃၀၈+ ၃၀၉ )ရှိ မြေ( ၇.၈၈ ) ဧက ( ၃၁,၈၈၉.၂၅၆ စတုရန်းမီတာ )တွင် CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းအပေါ် တင်သွင်းမည့်စက်ပစ္စည်း( Brand New )၊ ( Recondition )များသည် လုပ်ငန်းသဘာဝ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်တို့နှင့်ကိုက်ညီခြင်း ရှိ/မရှိ၊ ကုန်ကြမ်းများသည် လုပ်ငန်းနှင့် သင့်လျော်မှုရှိ/မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် အသုံးပြုမည့် စက်ပစ္စည်းနှင့် ကုန်ကြမ်းများအား တရုတ်နိုင်ငံမှ တင်သွင်းမည် ဖြစ်ပြီး စက်ပစ္စည်းစုစုပေါင်း ( ၉၇ )မျိုးအနက် ( ၂၃ )မျိုးမှာ Recondition စက်များဖြစ်၍ ကျန်( ၇၄ )မျိုးမှာ Brand New စက်များဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

( ခ ) စက်ပစ္စည်းများမှာ Energy သုံးစွဲမှုနည်းသော စက်ပစ္စည်းများဖြစ်ရန်နှင့် ထိခိုက်မှုနည်းစေရေး အစီအမံများပါရှိရန် လိုအပ်ပြီး တင်သွင်းမည့်မီးစက်များမှာ Efficient ဖြစ်ရန်နှင့် တုန်ခါမှု၊ အသံဆူညံမှုနည်းသော Sound Proof Type မီးစက်များဖြစ်ရန် လိုအပ်ပါသည်။

(ဂ) Recondition စက်များတင်သွင်းခြင်းအတွက် စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ အကောက်ခွန်ဦးစီးဌာန၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ကုန်သွယ်ရေးဦးစီးဌာနတို့၏ သတ်မှတ်ချက်များအတိုင်းဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ကုန်ကြမ်း( ၂၄ )မျိုး အသုံးပြုမည်ဖြစ်ပြီး ထုတ်လုပ်မည့် ထုတ်ကုန်အမျိုးအစား ( ၉ )မျိုးအတွက် အသုံးပြုမည့် ကုန်ကြမ်းစံနှုန်းများကို ဖော်ပြထားပြီး ၎င်း ကုန်ကြမ်းစံနှုန်းများအရ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုစံနှုန်း ကိုက်ညီမှုရှိပါကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) ကုန်ကြမ်းပစ္စည်းများမှာ ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး တိုးမြှင့်ထုတ်လုပ်မည့် ကုန်ချောပမာဏအရ ထပ်မံလိုအပ်သော ကုန်ကြမ်းပစ္စည်းပမာဏကိုလည်း တွက်ချက်ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

(စ) တစ်နှစ်လျှင် အခြေခံထုတ်လုပ်မည့်ပမာဏမှာ Female middle boots( 2,050,000 Pairs/yr ), Female slippers ( 1,040,000 Pairs /yr ), Women's shoes ( 2,280,000 Pairs /yr ), Women's sandals ( 2,730,000 Pairs /yr ), Children's boots ( 750,000 Pairs /yr ), Children's shoes ( 70,000 Pairs /yr ), Female boots ( 800,000 Pairs /yr ), Female booties ( 1,230,000 Pairs /yr ) နှင့် Children's sandals ( 300,000 Pairs /yr ) တို့ကို CMP စနစ်ဖြင့် ဖိနပ်အမျိုးအစား( ၉ )မျိုး ထုတ်လုပ်မည် ဖြစ်ပါသည်။

(ဆ) စက်ရုံတစ်ရုံတည်ဆောက်ရာတွင် သတ်မှတ်ထားသည့် လျှပ်စစ်နှင့်အခြားစက်မှုပိုင်းဆိုင်ရာလိုအပ်ချက်များကို သက်ဆိုင်ရာ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၏ ကြီးကြပ်မှုဖြင့် ဆောင်ရွက်ရန်၊

(ဇ) စက်ရုံအဆောက်အဦအားလုံး တည်ဆောက်ပြီးစီးပါက သက်ဆိုင်ရာ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်ရန်နှင့် သက်ဆိုင်ရာဌာနများ၏ ထောက်ခံချက်များ ရယူဆောင်ရွက်ရန်၊

(ဈ) ဓာတုပစ္စည်းများ အသုံးပြုမည်ဆိုပါက အန္တရာယ်ကင်းရှင်းစေရေးအတွက် စက်မှုဝန်ကြီးဌာနမှ ထုတ်ပြန်ထားသည့် ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့် နည်းဥပဒေများအတိုင်း လိုက်နာ

ဆောင်ရွက်ရန်နှင့် ပြည်ထဲရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသည့် “ **ထိန်းချုပ်ဓာတုပစ္စည်းကြီးကြပ်ရေးဆိုင်ရာ နည်းဥပဒေများ** ” ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည် ဖြစ်ပါသည်။

(ည) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်ရန်၊

( ဋ ) လုပ်ငန်းမှ ထွက်ရှိသော စွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းခြင်း၊ သန့်စင်ခြင်းနှင့် ဘေးအန္တရာယ်ကင်းရှင်းစွာ စွန့်ပစ်ရေးအတွက် အသုံးပြုနိုင်သည့်နည်းစနစ် ( Waste Treatment System )ကို တစ်ပါတည်း ထည့်သွင်းတည်ဆောက်ရန်နှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းချုပ်ရေးစီမံခန့်ခွဲခြင်း ( Pollution Control Management ) ကို သက်ဆိုင်ရာဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်၊

( ဌ ) လျှပ်စစ်ဓာတ်အား လိုအပ်ချက်၊ ရေလိုအပ်ချက်၊ ရေသုံးစွဲမှုပမာဏ၊ ရေရယူမည့်စနစ်တို့ကို ဖော်ပြထားခြင်းမရှိသည့်အတွက် ပြည့်စုံစွာ ဖော်ပြရန် လိုအပ်ပါသည်။

( ဍ ) လုပ်ငန်းအတိုင်းအတာအလျောက် ပတ်ဝန်းကျင်နှင့် လူမှုရေးအရထိခိုက်မှုဆန်းစစ်ခြင်း ( Environmental & Social Impact Assessment – ESIA ) (သို့မဟုတ်) ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan – EMP ) တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနနှင့် ညှိနှိုင်းရေးဆွဲရန်၊

( ဎ ) ထုတ်လုပ်မည့် ကုန်ချောပစ္စည်းများ၊ အသုံးပြုမည့် ကုန်ကြမ်းနှင့် ဓာတုပစ္စည်းများ သိုလှောင်မှုအတွက် မီးဘေးအန္တရာယ်ကင်းရှင်းရေးနှင့် စနစ်တကျသိုလှောင်ထားရှိမည့် အစီအမံများအား ဖော်ပြရန် လိုအပ်ပါသည်။

(ဏ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်ဆောင်ရွက်မည့် အစီအစဉ်၊ ပတ်ဝန်းကျင်ရှိ လူမှုကျန်းမာရေးထိခိုက်မှုမရှိစေရေးအတွက် အနံ့၊ အငွေ့၊ အသံထွက်ရှိမှုအား စနစ်တကျ ဆောင်ရွက်မည့်အစီအစဉ်စသည့် ပတ်ဝန်းကျင်ထိန်းသိမ်းမှုအစီအမံများအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ သတ်မှတ်ထားသည့် စံချိန်စံညွှန်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ဖြစ်ပါသည်။

(တ) အရိပ်ရလေကာပင်များ စိုက်ပျိုးသွားရန်နှင့် ရပ်ရွာလူမှုအကျိုးပြုလုပ်ငန်းများ Corporate Social Resposibility ( CSR ) အတွက် မျှတကျခံဆောင်ရွက်ရန်၊

၃။ သို့ပါ၍ Gold Emperor Group Co.,Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် တင်သွင်းမည့်စက်ပစ္စည်း( Brand New )၊ ( Recondition )များနှင့် ကုန်ကြမ်းပစ္စည်းများသည် ယေဘုယျအားဖြင့် လုပ်ငန်းသဘာဝ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်တို့နှင့်ကိုက်ညီမှုရှိပြီး လုပ်ငန်းနှင့်သင့်လျော်မှုရှိပါကြောင်းနှင့် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်( ၃ )အကြီးစားစက်မှုလုပ်ငန်း
မျှောစာတွဲ
ရုံးလက်ခံ

### အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး ( ထုတ် လွှတ်မှု ) လမ်းညွှန်ချက်များ ( EQEGs ) ပါ စွန့်ထုတ်အရည်၊ ထုတ်လွှတ်အခိုးအငွေ့ နှင့် ဆူညံသံအဆင့် သတ်မှတ်ချက်များ

**စွန့်ထုတ်အရည် အဆင့် သတ်မှတ်ချက်များ ( Effluent Levels )**

- Temp: – $< 40\ ^{\circ}C$
- pH – 6 ~ 9
- $BOD_5$ – 50 ppm
- COD – 250 ppm
- TSS – 50 ppm
- TDS – $<$ 2000 ppm

**ထုတ်လွှတ်အခိုးအငွေ့ အဆင့် သတ်မှတ်ချက်များ ( Air Emission Levels )**

- $PM_{10}$ (24 hr) – 50 $\mu g/m^3$
- $PM_{2.5}$ (24 hr) – 25 $\mu g/m^3$
- $CO_2$ – 5 Vol %
- CO – 50 ppm
- $NO_2$ (1 hr) – 200 $\mu g/m^3$
- $SO_2$ (24 hr) – 20 $\mu g/m^3$
- $NH_3$ – 25 ppm
- $H_2S$ – 10 ppm

**ဆူညံသံ အဆင့် သတ်မှတ်ချက်များ ( Noise Level )**

- Noise Level – 70 dB ( Max: )

| | | |
|---|---|---|
| **EQEGs** | – | **Environmental Quality ( Emission ) Guidelines** |
| **T.S.S** | – | **Total Suspended Solid ( ppm )** |
| **T.D .S** | – | **Total Dissolved Solid ( ppm )** |
| **B.O.D** | – | **Biochemical Oxygen Demand ( ppm )** |
| **C.O.D** | – | **Chemical Oxygen Demand ( ppm )** |
| **pH** | – | **pH Value** |
| **DRI** | – | **Department of Research & Innovation Laboratory** |

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုချက်

PROPOSAL OF THE INVESTOR

FOR MAKING INVESTMENT

IN THE REPUBLIC OF THE UNION OF MYANMAR

**"GOLD EMPEROR (MYANMAR) CO., LTD."**

ပုံစံ (၂)

# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊
ရက်စွဲ ၊

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့် အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပေးပါရန် အောက်ပါအချက်အလက်များ ကို ကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏

| | |
|---|---|
| (က) အမည် | Mr. Zhu Jianyong |
| (ခ) အဖအမည် | Mr.Zhu Yanxin |
| (ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူး လက်မှတ်အမှတ် | E72494397 |
| (ဃ) နိုင်ငံသား | တရုတ်နိုင်ငံသား |
| (င) နေရပ်လိပ်စာ | |
| (၁) ပြည်တွင်း | မြေကွက်အမှတ် ( ၃၀၆၊ ၃၀၇၊ ၃၀၈၊ ၃၀၉)၊ မြေတိုင်းရပ်ကွက် အမှတ် (၂၅)၊ ရွှေလင်ဗန်း စက်မှုမြို့၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (၂) ပြည်ပ | Puzhong Road C11, Tongren Garden Lu cheng District, Wen zhou, Zhejiang, China. |
| (စ) တယ်လီဖုန်း/ဖက်စ် | ၀၉-၄၂၁၀၁၆၇၉၈ |
| (ဆ) အီးမေးလ်လိပ်စာ | htway.961025@gmail.com. |
| (ဇ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ | No.1288, The 2nd Road, Binhai |

Wenzhou Eco.& Tech.Dev.Zone, Zhejiang, China.

(ည) လုပ်ငန်းအမျိုးအစား　　စီအမ်ပီစနစ်ဖြင့် ဖိနပ် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏-

(က) အမည်

(ခ) အဖအမည်　　မရှိပါ။

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူး လက်မှတ်အမှတ်　　မရှိပါ။

(ဃ) နိုင်ငံသား　　မရှိပါ။

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း　　မရှိပါ။

(၂) ပြည်ပ　　မရှိပါ။

(စ) ပင်မကုမ္ပဏီအမည်　　မရှိပါ။

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ　　မရှိပါ။

မှတ်ချက်။ အထက်အပိုဒ် ၁၊၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်- တင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင် အထောက်အထား

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေး ကြေးရေး ဆိုင်ရာ အထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူ ကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏

(က) အမည်　　ဒေါ်ရွှေပြည့်အိမ်

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ဒေါ်ရွှေပြည့်အိမ်

(လျှောက်ထားသူသည် စီးပွားရေး အဖွဲ့အစည်း ဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် ၁၂/ဗဟန(နိုင်)၀၉၉၇၅၀

(ဃ) နိုင်ငံသား မြန်မာနိုင်ငံသား

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် နေရပ်လိပ်စာ အမှတ်(၃၇ အေ)၊ရန်ကင်းလမ်း၊ စမ်းချောင်းမြို့နယ်၊ရန်ကုန်။

(စ) တယ်လီဖုန်း/ဖက်စ် ၀၉၄၂၀၁၀၆၇၉၈

(ဆ) အီးမေးလ်လိပ်စာ htway.961025@gmail.com.

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား စီအမ်ပီစနစ်ဖြင့် ဖိနပ် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

[√] ရာနှုန်းပြည့် [ ] ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

[ ] အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်း တင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု |
|---|---|---|---|
| | Gold Emperor Group Co., Ltd. | တရုတ်နိုင်ငံ | ၁၀၀% |
| | Represented By; | | |
| ၁။ | Mr. Zhu Jianyong | တရုတ်နိုင်ငံသား | |
| ၂။ | Mr. Zhu Yezhen | တရုတ်နိုင်ငံသား | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း -

(ခ) အစုရှယ်ယာအမျိုးအစား ရိုးရိုးရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ -

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းပူးတွဲတင်ပြရန်။

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

| | US$(သန်းပေါင်း) |
|---|---|
| (က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | - |
| (ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | ၁၀၀% (၁၃.၃၆၀) |
| စုစုပေါင်း | **၁၀၀% (၁၃.၃၆၀)** |
| (ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ ယူဆောင်လာမည့်ကာလ | ၂နှစ် |
| (ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ | USD ၁၃.၃၆၀ သန်းပေါင်း |
| (င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | ၅၀ နှစ် |
| (စ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ | ၂နှစ် |

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့်အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | **၁၀.၅၃၁** | **၁၅၇၉၆.၅** |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၂.၅၀၁ | ၃၇၅၁.၅ |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ် မူပိုင်ခွင့်စသည့် အသိဉာဏ်ဆိုင်ရာပစ္စည်းများကိုတန်ဖိုးဖြတ်နိုင်သောအခွင့်အရေးများ၏ တန်ဖိုးပမာဏ | | |
| (င) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | | |
| (စ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) | ၀.၃၂၈ | ၄၉၂ |

**စုစုပေါင်း** USD ၁၃.၃၆၀ သန်းပေါင်း မြန်မာကျပ် ၂၀,၀၄၀သန်းပေါင်း

မှတ်ချက်။ အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း

| | ကျပ်(သန်းပေါင်း) |
|---|---|
| (က) ငွေပမာဏ | မရှိပါ။ |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ။ |
| (ဂ) မြေ/အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | မရှိပါ။ |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | မရှိပါ။ |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ။ |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ။ |
| (ဆ) အခြား | မရှိပါ။ |
| **စုစုပေါင်း** | |

၁၁။ ဈေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

| | ကျပ် |
|---|---|
| ☐ ပြည်တွင်းဈေးငွေ | အမေရိကန်ဒေါ်လာ |
| ☐ ပြည်ပဈေးငွေ | အမေရိကန်ဒေါ်လာ |

၁၂။ ဆောင်ရွက်ရမည့် စီးပွားရေးအဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ) — မြေကွက်အမှတ် ( ၃၀၆၊ ၃၀၇၊ ၃၀၈၊ ၃၀၉)၊ မြေတိုင်းရပ်ကွက် အမှတ် (၂၅)၊ ရွှေလင်ဗန်း စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာ
အမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်များ-

| | |
|---|---|
| (၁) တည်နေရာ | လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| (၂) မြေ/ အဆောက်အအုံအကျယ်အဝန်း၊ အရေအတွက် | ၇.၈၈ ဧက (31889.23 sqm) |
| (၃) လက်ရှိပိုင်ဆိုင်သူ | |
| (ကက) အမည်/ကုမ္ပဏီအမည်/ဌာန | ဦးအေးသောင်း<br>ဦးပြည့်ဖြိုးကျော်<br>ဦးရှင်ဝင်း (ခ) မေဖုဝမ်း (ခ) ဦးမြင့်ဆွေ |
| (ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် | ၁၂/ကမတ (ဧည့်) ဝဝဝဝ၇၉<br>၁၂/လမတ (နိုင်) ဝ၃၄၈၈၉<br>၁၃/ကခန (နိုင်) ဝ၃ဝ၁၈၂ |
| (ဂဂ) နေရပ်လိပ်စာ | အမှတ် ၇၇၅၊မဟာဗန္ဓုလလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်။<br>အမှတ် ၅/၇၊ ရွှေတောင်တန်းလမ်း၊ လမ်းမတော်မြို့နယ်။ |
| (၄) မြေအမျိုးအစား | စက်မှုဇုန် |
| (၅) မြေငှားဂရမ် ခွင့်ပြုကာလ | (၆ဝ) နှစ် |
| (၆) ငှားရမ်းမည့်ကာလ | ( ၅ဝ)နှစ် |
| (၇) ငှားရမ်းခနှုန်းထား | |
| (ကက) မြေ | ၁နှစ်လျှင် မြန်မာကျပ် ၄၇,၉၉၉,၆၆၈.၉၉၆ |
| (ခခ) အဆောက်အအုံ | - |
| (၈) ရပ်ကွက် | မြေတိုင်းရပ်ကွက် အမှတ် (၂၅) |
| (၉) မြို့နယ် | လှိုင်သာယာ မြို့နယ်၊ |

(ဂဂ) ပြည်နယ် / တိုင်းဒေသကြီး — ရန်ကုန်တိုင်းဒေသကြီး

(ဒဒ) ငှားရမ်းမည့်ပုဂ္ဂိုလ်

(ကက) အမည်/ကုမ္ပဏီအမည်/ဌာန — Mr. Zhu Jianyong

(ခခ) အဖအမည် — Mr.Zhu Yanxin

(ဂဂ) နိုင်ငံသား — တရုတ်နိုင်ငံသား

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ နိုင်ငံသားစိစစ်ရေးကတ်အမှတ် — E72494397

(ငင) နေရပ်လိပ်စာ — Puzhong Road C11, Tongren Garden Lu cheng District, Wen zhou, Zhejiang, China.

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက် — တည်ဆောက်သွားမည်ဖြစ်ပါသည်။

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် — မရှိပါ။

(၂) အကျယ်အဝန်း — မရှိပါ။

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု — စီအမ်ပီစနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် — ၇,၈၇၅,ဝဝဝ kwh

(စ) နှစ်စဉ် ရေလိုအပ်ချက် — ၃၆,ဝဝဝ တန်

မှတ်ချက်။ အပိုဒ်၁၂(ခ)နှင့် စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန်

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှအပ)နှင့် မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ကုမ္ပဏီအမည် — Mr. Zhu Jianyong

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် — E72494397

(ဂ) ဘဏ်စာရင်းအမှတ် — 91330301609311239Y

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏ စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်း ပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု (မန်နေဂျာများ၊အဆင့်မြင့်အရာရှိများ) | ၇ | ၅ | ၁၂ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု (အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၁ | ၁၀ | ၁၁ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၉၇ | ၁၀ | ၁၀၇ |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | ၃၆ | ၂၅ | ၆၁ |
| (င) | အကြံပေး | | | |
| (စ) | ကျွမ်းကျင်လုပ်သား | ၇၀၀ | | ၇၀၀ |
| (ဆ) | အခြေခံလုပ်သား | ၄၀၀ | | ၄၀၀ |
| စုစုပေါင်း | | ၁၂၄၁ | ၅၀ | ၁၂၉၁ |

မှတ်ချက်။ အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြလျှောက်ထားခြင်းရှိ/ မရှိဖော်ပြရန်-

☑ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

လျှောက်ထားသူလက်မှတ်

| | |
|---|---|
| အမည် | Mr. Zhu Jianyong |
| ရာထူး | Promoter |
| ဌာန/ကုမ္ပဏီတံဆိပ် | Gold Emperor (Myanmar) Co., Ltd. |

## အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ် (နည်းဥပဒေ ၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီပွား သိသာထင်ရှားစွာပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ ၏ ၁၀% နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏-

(၁) အမည် — Mr Zhu. Jianyong

(၂) ဆက်သွယ်ရမည့်လိပ်စာ — မြေကွက်အမှတ် ( ၃၀၆၊ ၃၀၇၊ ၃၀၈၊ ၃၀၉)၊ မြေတိုင်းရပ်ကွက် အမှတ် (၂၅)၊ ရွှေလင်ဗန်း စက်မှုမြို့၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(၃) မှတ်ပုံတင်အမှတ် (တစ်ဦး ထက်ပိုပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်) — E72494397

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင်တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံ ကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) — မရှိပါ။

(၂) — မရှိပါ။

(၃) — မရှိပါ။

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ — မြေကွက်အမှတ် ( ၃၀၆၊ ၃၀၇၊ ၃၀၈၊ ၃၀၉)၊ မြေတိုင်းရပ်ကွက် အမှတ် (၂၅)၊ ရွှေလင်ဗန်း စက်မှုမြို့၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် — စီအမ်ပီစနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန် — US$ ၁၃.၃၆၀ သန်းပေါင်း / မြန်မာကျပ်ငွေ ၂၀,၀၄၀သန်းပေါင်း

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင် အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ(နှစ်၊လတို့ဖြင့်ဖော်ပြရန်) — ၂ နှစ်

(ခ) စီပွားဖြစ်စတင်မည့်ကာလ (နှစ်၊လတို့ဖြင့်ဖော်ပြရန်)

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ-

(က) ပြည်တွင်း — ၁၂၄၁ ဦး

(ခ) ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ) — ၅၀ ဦး

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည် ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှုပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ်ယူဆောင် လာမည့် ရင်းနှီးငွေပမာဏ (Capial In-Kinds) တို့အား တိကျစွာခွဲခြားသတ်မှတ် ဖော်ပြပေးရန်(မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့်ဖော်ပြရန်)-

(က) ငွေသားဖြင့်ယူဆောင်မှုပမာဏ — အမေရိကန်ဒေါ်လာ ၁၀.၅၃၁သန်းပေါင်း

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ — အမေရိကန်ဒေါ်လာ ၂.၈၂၉သန်းပေါင်း

မှတ်ချက်။ ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြတောင်း ဆိုနိုင်သည်။

